## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Southern Myanmar Development Co., Ltd.

လုပ်ငန်းအမျိုးအစား ပိုက်လိုင်း ဆီတင်ချဆိပ်ကမ်းနှင့် သိုလှောင်ကန် တည်ဆောက်ပြီး ဓာတ်ဆီ၊ ဒီဇယ်ဆီ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

PAT အကြိမ်/ရက်စွဲ ၃၀/၂၀၁၈(၁-၁၀-၂၀၁၈)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန်အချက်များ | ဆောင်ရွက်ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|
| ၁။ | စက်ပစ္စည်းစာရင်းတွင် ပြည်တွင်း/ပြည်ပမှ ဝယ်ယူမည့် စက်ပစ္စည်းစာရင်းအား စိစစ်ပြီး ပြန်လည်တင်ပြရန်။ | ပြီး | |
| ၂။ | ပြည်တွင်းဝန်ထမ်းလစာစာရင်းအား မြန်မာကျပ်ငွေဖြင့် ဖော်ပြ၍ နှစ်အလိုက်လစာနှုန်းထားများအား ခန့်ထားမည့်ရာထူးအဆင့်အလိုက် ဖော်ပြပေးရန်။ | ပြီး | |

ရက်စွဲ။ ၃၀-၁၀-၂၀၁၈

Southern Myanmar Development Co., Ltd. နှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့် အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့်ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာ တင်ပြလာခြင်း | - | - | - |
| ၂ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာ အပေါ် အကြောင်းပြန်ကြားခြင်း | - | - | - |
| ၃ | အဆိုပြုချက်အားကုမ္ပဏီမှတင်ပြလာခြင်း | | ၁၄-၉-၂၀၁၈ | |
| ၄ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရမည့် အချက်များ အကြောင်းကြားခြင်း | ၁၈-၉-၂၀၁၈ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်း အဝေးသို့ တင်ပြခြင်း | ၁-၁၀-၂၀၁၈ (၃၀/၂၀၁၈) | | |
| ၆ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၈-၁၀-၂၀၁၈ | | |
| ၇ | ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီး ဌာနသို့ သဘောထားတောင်းခံခြင်း | ၁-၁၀-၂၀၁၈ | ၁၅-၁၀-၂၀၁၈ | ၁၄ ရက် |
| ၈ | လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနသို့ သဘောထားတောင်းခံခြင်း | ၂၄-၉-၂၀၁၈ | ၄-၁၀-၂၀၁၈ | ၉ ရက် |
| ၉ | မွန်ပြည်နယ်အစိုးရအဖွဲ့သို့ သဘောထား တောင်းခံခြင်း | ၁-၁၀-၂၀၁၈ | ၂၂-၁၀-၂၀၁၈ | ၂၁ ရက် |
| ၁၀ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ ခြင်း | | ၂၉-၁၀-၂၀၁၈ | |
| ၁၁ | အဆိုပြုချက်အား ကော်မရှင်အစည်းအဝေး သို့ တင်ပြခြင်း | ၁၈/၂၀၁၈ (၂-၁၁-၂၀၁၈) | | |
| | စုစုပေါင်းကြာမြင့်ရက် | ၂၄ ရက် | | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Southern Myanmar Development Co., Ltd. တည်ထောင်ပြီး ပိုက်လိုင်း ဆီတင်ချ ဆိပ်ကမ်းနှင့် သိုလှောင်ကန် တည်ဆောက်ပြီး ဓာတ်ဆီ၊ ဒီဇယ်ဆီတင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Southern Myanmar Development Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးစိန်ဝမ်း |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>Bedok Construction & Engineering Co.,Ltd.(မြန်မာနိုင်ငံ) ၃၄%<br>Asiatech Power Pte. Ltd. (စင်ကာပူသမ္မတနိုင်ငံ) ၃၃%<br>Siam Gas Power Pte. Ltd. (စင်ကာပူသမ္မတနိုင်ငံ) ၃၃% |
| | လုပ်ငန်းအမျိုးအစား | - ပိုက်လိုင်းဆီ တင်ချဆိပ်ကမ်းနှင့် သိုလှောင်ကန် တည်ဆောက်ပြီး ဓာတ်ဆီ၊ ဒီဇယ်ဆီ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မွန်ပြည်နယ်၊ ရေးမြို့နယ်(မြောက်ဘက်)၊ သပြေကျေးရွာအနီး ပင်လယ်ကမ်းစပ်ရှိ မြေ ၄၇.၂၈ ဧက |
| ၃။ | မြေပိုင်ရှင် | - ဦးစိန်ဝမ်း |
| | မြေအကျယ်အဝန်း | - ၄၇.၂၈ ဧက (၁၉၁,၃၃၅.၅၄၁ စတုရန်းမီတာ) |
| | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ် ၃၇၈,၂၄၀,၀၀၀.၀၀ ကျပ် (တစ်နှစ် တစ်ဧကလျှင် ၈,၀၀၀,၀၀၀ ကျပ်) |
| | မြေအသုံးပြုခွင့်သက်တမ်း | - ၅၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် သက်တမ်း | - ၅၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၂ နှစ် ၆ လ (၃၀ လ) |
| ၆။ | စုစုပေါင်း မတည်ငွေရင်းပမာဏ | - US$ ၁၃၂.၁၇၁ သန်း(US$ ၁၁၉.၅၃၃ သန်းအပါအဝင်) |

| ထည့်ဝင်သည့်အမျိုးအစား | မြန်မာ US$ (သန်း) | နိုင်ငံခြား US$(သန်း) | စုစုပေါင်း US$(သန်း) |
|---|---|---|---|
| ငွေသား | ၁၂.၆၃၈ | ၄.၆၀၂ | ၁၇.၂၄၀ |
| စက်ပစ္စည်း | - | ၇၅.၄၆၇ | ၇၅.၄၆၇ |
| Structure, Building Architecture | - | ၃၉.၄၆၄ | ၃၉.၄၆၄ |
| **စုစုပေါင်း** | **၁၂.၆၃၈** | **၁၁၉.၅၃၃** | **၁၃၂.၁၇၁** |

- စုစုပေါင်း မတည်ငွေရင်းတွင် ချေးငွေ US$ ၉၅.၀၀၁ သန်း (စုစုပေါင်းရင်းနှီးမြှုပ်နှံမှု၏ ၇၁.၈၈%) ပါဝင်နေကြောင်း တင်ပြထားပါသည်။

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း (၁၀၀%) |
| ၈။ | နှစ်စဉ်ပျမ်းမျှရောင်းချမည့်အရေအတွက်နှင့် ရောင်းဈေး(ကျပ်) | **အမျိုးအစား** / **အရေအတွက် (လီတာသန်းပေါင်း)** / **ဈေးနှုန်း (ကျပ်)**<br>92 Ron Gasoline / ၅၀၄ / ၉၅၃.၇၄<br>95 Ron Gasoline / ၅၀၄ / ၁,၀၀၂.၆၅<br>Premium Diesel / ၄,၈၈၄ / ၉၆၃.၈၁<br>500 PPM / ၄,၈၈၄ / ၉၇၃.၄၀ |
| ၉။ | ဝန်ထမ်းခန့်ထားမှု | / **ပြည်တွင်း** / **ပြည်ပ**<br>ဦးရေ / ၉၇ ဦး / ၄၀ ဦး<br>အနိမ့်ဆုံးလစာ / ၁၃၅,၀၀၀ ကျပ် / US$ ၁,၀၀၀<br>အမြင့်ဆုံးလစာ / ၁,၅၀၀,၀၀၀ ကျပ် / |
| ၁၀။ | CSR | -နှစ်စဉ် အသားတင်အမြတ်၏ ၂% အား သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက- ၅(စ)/ ခ-၀၁၄/၂၀၁၈( ၃၆၂ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၂၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Southern Myanmar Development Co., Ltd. မှ ပိုက်လိုင်း ဆီတင်ချဆိပ်ကမ်းနှင့် သိုလှောင်ကန် တည်ဆောက်ပြီး ဓာတ်ဆီ၊ ဒီဇယ်ဆီ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ Bedok Construction & Engineering Co., Ltd. မှ ၃၄% ၊ စင်ကာပူသမ္မတနိုင်ငံ Asiatech Power Pte. Ltd. မှ ၃၃% နှင့် Siam Gas Power Pte. Ltd. မှ ၃၃% အသီးသီး ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Southern Myanmar Development Co., Ltd. တည်ထောင်ပြီး မွန်ပြည်နယ်၊ ရေးမြို့နယ်(မြောက်ဘက်)၊ သပြေကျေးရွာအနီး ပင်လယ်ကမ်းစပ်ရှိ မြေ ၄၇.၂၈ ဧကတွင် ပိုက်လိုင်း ဆီတင်ချဆိပ်ကမ်းနှင့် သိုလှောင်ကန် တည်ဆောက်ပြီး ဓာတ်ဆီ၊ ဒီဇယ်ဆီ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် Bedok Construction & Engineering Co., Ltd.၊ Siam Gas Power Pte. Ltd. နှင့် Asiatech Power Pte. Ltd. တို့အကြား ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၉ ရက်နေ့ရက်စွဲဖြင့် ချုပ်ဆိုထားသည့် shareholders agreement၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေနေရာနှင့် စပ်လျဉ်း၍ မြေပိုင်ရှင် ဦးစိန်ဝမ်းနှင့် မြေငှားရမ်းသူ ဦးကျော်ဖြိုးထွန်း(မန်နေးဂျင်းဒါရိုက်တာ) Southern Myanmar Development Co., Ltd. တို့အကြား ချုပ်ဆိုသည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်နှင့် (နောက်ဆက်တွဲပြင်ဆင်ချက်စာချုပ်)၊ Southern Myanmar Development Co., Ltd. ၏ ကုမ္ပဏီဖွဲ့စည်းတည်ထောင်ထားသည့် အထောက်အထား၊ လုပ်ငန်းတည်နေရာ၊ Site Plan၊ Layout Plan များအား တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ၅၀ နှစ် ဖြစ်ပါသည်။ စုစုပေါင်းမြေ ၄၇.၂၈ ဧက (၁၉၀,၃၃၅.၅၄၁ စတုရန်းမီတာ) ငှားရမ်း၍ နှစ်စဉ် မြေငှားရမ်းခမှာ တစ်နှစ် ၃၇၈,၂၄၀,၀၀၀.၀၀ ကျပ် (တစ်နှစ် တစ်ဧကလျှင် ၈,၀၀၀,၀၀၀ ကျပ်) ဖြစ်ပါသည်။

ကန့်သတ်

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂နှစ် ၆လ ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၁၉.၅၃၃ သန်း အပါအဝင် အမေရိကန် ဒေါ်လာ ၁၃၂.၁၇၁ သန်း ဖြစ်ပြီး မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | မြန်မာ (US$/သန်း) | နိုင်ငံခြား (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|
| ငွေသား | ၁၂.၆၃၈ | ၄.၆၀၂ | ၁၇.၂၄၀ |
| စက်ပစ္စည်း | - | ၇၅.၄၆၇ | ၇၅.၄၆၇ |
| Structure, Building Architecture | - | ၃၉.၄၆၄ | ၃၉.၄၆၄ |
| **စုစုပေါင်း** | **၁၂.၆၃၈** | **၁၁၉.၅၃၃** | **၁၃၂.၁၇၁** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းဝန်ထမ်း ၉၇ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၁၃၅၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၁,၅၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။ ပထမနှစ်တွင် ပြည်ပဝန်ထမ်း ၄၀ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ ပျမ်းမျှလစာမှာ US$ ၁,၀၀၀ ကျပ် ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ အောက်ပါ အမျိုးအစား ဓာတ်ဆီနှင့် ဒီဇယ်ဆီများကို ဖော်ပြပါ ဈေးနှုန်းများဖြင့် ပြည်တွင်းသို့ ၁၀၀% ဖြန့်ဖြူးရောင်းချသွားမည်ဖြစ်ပါသည်-

| **စဉ်** | **အမျိုးအစား** | **အရေအတွက် (လီတာသန်းပေါင်း)** | **ဈေးနှုန်း (ကျပ်)** |
|---|---|---|---|
| (က) | 92 Ron Gasoline | ၅၀၄ | ၉၅၃.၇၄ |
| (ခ) | 95 Ron Gasoline | ၅၀၄ | ၁,၀၀၂.၆၅ |
| (ဂ) | Premium Diesel | ၄,၈၈၄ | ၉၆၃.၈၁ |
| (ဃ) | 500 PPM | ၄,၈၈၄ | ၉၇၃.၄၀ |

၈။ လုပ်ငန်းနှင့်စပ်လျဉ်း၍ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ ပို့ဆောင်ရေးနှင့် ဆက် သွယ်ရေးဝန်ကြီးဌာနနှင့် မွန်ပြည်နယ်အစိုးရအဖွဲ့တို့သို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ကန့် ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားစာအား နောက်ဆက်တွဲ(က)၊ (ခ)နှင့် (ဂ)တို့ဖြင့် တင်ပြ ထားပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် Southern Myanmar Development Co., Ltd. အမည်ဖြင့် AGD Bank ၌ ၂-၈-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၃၄,၉၂၄,၁၂၄.၀၀ ရှိကြောင်း အထောက်အထားပူးတွဲတင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းအား ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၃၀/၂၀၁၈)အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်းတင်ပြထားပါသည်။

(ဂ) ဥပဒေပုဒ်မ ၃၆ အရ ကော်မရှင်သို့ အဆိုပြုချက် တင်ပြရမည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုစာရင်းတွင် မပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်.**

၁၂။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Southern Myanmar Development Co., Ltd. မှ ပိုက်လိုင်း ဆီတင်ချဆိပ်ကမ်းနှင့် သိုလှောင်ကန်တည်ဆောက်ပြီး ဓာတ်ဆီ၊ ဒီဇယ်ဆီ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ- မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ



ဝင်စာအမှတ် M4-1006
ရက်စွဲ ၆.၁၀.၁၈

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**

**နောက်ဆက်တွဲ (က)**

စာအမှတ်၊MOEE-၂/(၁၅)/(သဘောထား)/( ၁၅၉၉၆ )/၂၀၁၈
ရက် စွဲ ၊ ၂၀၁၈ ခုနှစ် ၊ အောက်တိုဘာလ ၄ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၉-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/ ခ-၀၁၄/ ၂၀၁၈(၃၂၅)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Southern Myanmar Development Co.,Ltd တည်ထောင်ပြီး မွန်ပြည်နယ်၊ ရေးမြို့နယ်(မြောက်ဘက်)၊ သပြေကျေးရွာအနီး ပင်လယ်ကမ်းစပ်ရှိ မြေ ၄၇.၂၈ ကေတွင် ပိုက်လိုင်းဆီတင်ဆီချဆိပ်ကမ်းနှင့် သိုလှောင်ကန်တည်ဆောက်ပြီး၊ ဓာတ်ဆီ၊ ဒီဇယ်ဆီတင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခဲ့ခြင်းနှင့်စပ်လျဉ်း၍ သဘောထား မှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြား လာခဲ့ပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဓာတ်ဆီ၊ ဒီဇယ်ဆီများ တင်သွင်းသိုလှောင်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ဤဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ရေနံနှင့်ရေနံထွက်ပစ္စည်း ဆိုင်ရာဥပဒေနှင့်အညီ လုပ်ငန်းလိုင်စင်ရယူဆောင်ရွက်သွားရန်ဖြစ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( ကစ )
(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ရေနံနှင့်သဘာဝဓာတ်ငွေ့စီမံရေးဦးစီးဌာန
မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း
ရုံးလက်ခံ/ မျှောစာတွဲ




MPT-3980
16.10.18

77
17/10/18

**နောက်ဆက်တွဲ (ခ)**

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ပဆ-(၃)/(မြေ-MPA)/၂၀၁၈ ( ၁၂၉ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ၁၅ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁.၁၀.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၅(စ)/ခ-၀၁၄/၂၀၁၈(၃၃၁)

၁။ Southern Myanmar Development Co., Ltd. ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ ရေးမြို့နယ်(မြောက်ဘက်)၊ သပြေကျေးရွာအနီး ပင်လယ်ကမ်းစပ်ရှိ မြေ ၄၇.၂၈ ဧကတွင် ပိုက်လိုင်းဆီတင်/ချ ဆိပ်ကမ်းနှင့် သိုလှောင်ကန်တည်ဆောက်ပြီး ဓာတ်ဆီ၊ ဒီဇယ်ဆီ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် ကန့်ကွက်ရန် ရှိ-မရှိ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါ စာဖြင့် ညှိနှိုင်းလာသည့်ကိစ္စ ဖြစ်ပါသည်။

၂။ Southern Myanmar Development Co., Ltd. က တည်ဆောက်မည့် ပိုက်လိုင်း ဆီတင်/ချ ဆိပ်ကမ်း၏ တည်နေရာသည် Port Limit ပြင်ပတွင် တည်ရှိနေသော်လည်း ပိုက်လိုင်း ဆီတင်/ချ ဆိပ်ကမ်း တည်ဆောက်ပြီး ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်မည်ဆိုပါက အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည် -

(က) ဆီတင်သင်္ဘောကြီးများ ဆိုက်ကပ်အသုံးပြုခြင်းအတွက် ဆိပ်ကမ်းလုပ်ငန်းများ ဆောင်ရွက်ခြင်းမှ ရရှိသည့် စုစုပေါင်းဝင်ငွေအပေါ် ၅% ကို မြန်မာ့ဆိပ်ကမ်း အာဏာပိုင်ထံသို့ ခိုင်ကြေး (Royalty Fee) အဖြစ် ပေးဆောင်ရမည်ဖြစ်ပြီး မြန်မာ့ ဆိပ်ကမ်းအာဏာပိုင်နှင့် Southern Myanmar Development Co., Ltd. တို့ အကြား နှစ်ဦးသဘောတူစာချုပ်ကို ချုပ်ဆိုရန် ၊

(ခ) ပိုက်လိုင်း ဆီတင်/ချ ဆိပ်ကမ်း တည်ဆောက်ပြီး ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများ စတင်ဆောင်ရွက်မည်ဆိုပါက မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ထံမှ အပြည်ပြည်ဆိုင်ရာ ဆိပ်ကမ်းလုပ်ငန်း လုပ်ကိုင်ခွင့်လိုင်စင်ကို လျှောက်ထားရန်၊

(ဂ) ဆိပ်ခံတံတားသို့ အပြည်ပြည်ဆိုင်ရာ သင်္ဘောများ ဝင်/ထွက် ဆိုက်ကပ်ရာတွင်လည်း မြန်မာ့ဆိပ်ကမ်းအာဏာပိုင်အား သင်္ဘောကိုယ်စားလှယ် (Shipping Agent) အဖြစ် ခန့်အပ်ရန်နှင့် သင်္ဘောများ ဝင်/ထွက် သွားလာရာတွင် သတ်မှတ် Port Due နှင့် Light Due များကို ပေးဆောင်ရန်၊

၃။ Southern Myanmar Development Co., Ltd. ကို မွန်ပြည်နယ်၊ ရေးမြို့နယ် (မြောက်ဘက်)၊ သပြေကျေးရွာအနီးတွင် ပိုက်လိုင်းဆီတင်/ချ ဆိပ်ကမ်းနှင့် သိုလှောင်ကန် တည်ဆောက်ပြီး ဓါတ်ဆီ၊ ဒီဇယ်ဆီတင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း အကောင်အထည်ဖော် တည်ဆောက်ခွင့်ပြုမည်ဆိုပါက ဆီသိုလှောင်ကန်များ တည်ဆောက် ခြင်းအတွက် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊ ရေနံထွက်ပစ္စည်းများ တင်သွင်းသိုလှောင်ချက်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများ ထိန်းသိမ်းကြီးကြပ်ရေး ကော်မတီ၏ စည်းကမ်းသတ်မှတ်ချက်များ၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၊ သတ္တုတွင်းဦးစီးဌာနနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနတို့၏ သဘောထား မှတ်ချက်များ၊ မွန်ပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်တို့နှင့်အညီ ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါသည်။

၄။ ကုလားကုတ်ကျွန်းနှင့် သပြေကျေးရွာ အနီးတဝိုက်ဒေသရှိ ဒေသခံများသည် ငါးလုပ်ငန်းဖြင့် စီးပွားရှာခြင်းကို အဓိကထားဆောင်ရွက်သည်ဖြစ်ရာ Southern Myanmar Development Co., Ltd. က တည်ဆောက်မည့် ပိုက်လိုင်းဆီတင်/ချဆိပ်ကမ်း၏ Walk way Pipe Line မှာ Shore Line မှ အလျား ၅၀၀၀ မီတာ (၃.၁ မိုင်) ရှိသည့်အတွက် သဘာဝပတ်ဝန်းကျင်နှင့် ကုလားကုတ် ကျွန်း၊ သပြေကျေးရွာ၊ ငါးဖမ်းစက်လှေများနှင့် ဒေသခံပြည်သူများကို ထိခိုက်နိုင်မှု ရှိ-မရှိကို ဆန်းစစ်ကြည့်ရန် လိုအပ်မည်ဖြစ်သဖြင့် သဘာဝပတ်ဝန်းကျင် ထိခိုက်မှုလေ့လာ အကဲဖြတ်ချက် (Environmental Impact Assessment-EIA) နှင့် လူမှုပတ်ဝန်းကျင် ထိခိုက်မှု လေ့လာ အကဲဖြတ်ချက် (Social Impact Assessment-SIA)တို့ ပါဝင်သည့် ဘက်စုံဖြစ်နိုင်ခြေ လေ့လာမှု (Comprehensive Feasibility Study) ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း သုံးသပ် တွေ့ရှိရပါသည်။

၅။ အထူးသဖြင့် Southern Myanmar Development Co., Ltd. မှ ပိုက်လိုင်းဆီတင်/ချ ဆိပ်ကမ်းနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ပြီး စက်သုံးဆီသိုလှောင်ဖြန့်ဖြူးသည့်လုပ်ငန်း ဆောင်ရွက်မည့်အပေါ် ဒေသခံပြည်သူများ၏ သဘောတူညီချက်ရယူရန်လည်း လိုအပ်မည်ဖြစ် ကြောင်း စိစစ်တွေ့ရှိရပါသည်။

၆။ သို့ဖြစ်ပါ၍ Southern Myanmar Development Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ ရေးမြို့(မြောက်ဘက်)၊ သပြေကျေးရွာအနီး ပင်လယ်ကမ်းစပ်ရှိ မြေ ၄၇.၂၈ ဧကတွင် ပိုက်လိုင်းဆီတင်/ချဆိပ်ကမ်းနှင့် သိုလှောင်ကန်တည်ဆောက်ပြီး ဓါတ်ဆီ၊ ဒီဇယ်ဆီ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည့် အဆိုပြု တင်ပြထားခြင်းကိစ္စအပေါ် အထက်စာပိုဒ် (၂)၊ (၃)၊ (၄) နှင့် (၅) ပါ အချက်များနှင့်အညီ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို-

- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
- ရုံးလက်ခံ
- မျှောစာတွဲ




**နောက်ဆက်တွဲ (ဂ)**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

မွန်ပြည်နယ်





စာအမှတ်၊ ၃၀၀/ ၃ - ၁ / အဖရ(မွန်)(      )

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ၂၂ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ၊ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁-၁၀-၂၀၁၈)ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/ခ-၀၁၄/၂၀၁၈(၃၃၂)

ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Southern Myanmar Development Co.,Ltd မှ မွန်ပြည်နယ်၊ ရေးမြို့နယ်(မြောက်ဘက်)၊ သပြေကျေးရွာအနီးရှိ မြေဧရိယာ(၅.၅၆)ဧက၊ သပြေကျေးရွာအနီး ပင်လယ်ကမ်းစပ်ရှိ မြေဧရိယာ(၄၇.၂၈)ဧကနှင့် လမိုင်းကျေးရွာအနီးရှိ မြေဧရိယာ(၁၅.၄)ဧက၊ စုစုပေါင်းမြေဧရိယာ(၆၈.၂၅)ဧကတွင် လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုမိန့်အမှတ်-၀၈၇/၂၀၁၈ ဖြင့် ထုတ်ပေးခဲ့ပြီးဖြစ်ရာ အဆိုပါခွင့်ပြုပြီး မြေနေရာများအနက် သပြေကျေးရွာအနီး ပင်လယ်ကမ်းစပ်ရှိ မြေဧရိယာ(၄၇.၂၈)ဧကကို မူလအတည်ပြုမိန့်မှပြင်ဆင်လျှော့ချခဲ့ပြီး လျှော့ချခဲ့သည့်မြေနေရာ(၄၇.၂၈)ဧကပေါ်တွင် ပိုက်လိုင်းဆီတင်ချဆိပ်ကမ်းနှင့် သိုလှောင်ကန်တည်ဆောက်၍ ဓာတ်ဆီ၊ ဒီဇယ်ဆီတင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာခြင်းနှင့်ပတ်သက်၍ (၁၉-၁၀-၂၀၁၈)ရက်နေ့တွင် ကျင်းပပြုလုပ်သော မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၁/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ် (၉၈) အရ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)

(လှဝင်းတင် ၊ အတွင်းရေးမှူး)

IY.Mi(New)/Cab 180

မိတ္တူကို

လျှပ်စစ်၊ စွမ်းအင်နှင့်စက်မှုဝန်ကြီး
မှန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
Southern Myanmar Development Co.,Ltd
လှည့်လည်စာတွဲ
ရုံးလက်ခံ